လျှို့ဝှက်

အကြောင်းအရာ။ ရခိုင်ရှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Daraz Myanmar Co., Ltd. မှ Retail and Warehouse လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Daraz Myanmar Co., Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | - Daraz Myanmar Co., Ltd. |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ရခိုင်ရှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Daraz Singapore Private Limited (စင်ကာပူ) ၉၉.၉၀ %<br>Mr Franciscus Petrus Adrianus Cornelis (နယ်သာလန်) ၀.၁၀ % |
| | လုပ်ငန်းအမျိုးအစား | - Retail and Warehouse လုပ်ငန်း |
| ၂။ | တည်နေရာ | - အခန်းအမှတ်-G-04၊ G-05၊ G-06၊ တိုက်အမှတ်-D၊ အခန်းအမှတ်-G-01၊ G-02၊ G-03၊ G-04၊ G-05၊ တိုက်အမှတ်-E၊ ဗိုလ်မြတ်ထွန်းလမ်း၊ မဟာဗန္ဓုလလမ်းနှင့် ကုန်သည်လမ်းထောင့်၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | အဆောက်အဦပိုင်ရှင် | - Asia Express (Ygn) Co., Ltd. |
| | အဆောက်အဦ အကျယ်အဝန်း | - ၁၈,၂၄၈ စတုရန်းပေ (၁,၆၉၅.၂၉၁၇ စတုရန်းမီတာ) |
| | အဆောက်အဦငှားရမ်းခ | -တစ်လလျှင် အမေရိကန်ဒေါ်လာ ၂၂,၅၉၃.၀၀ |
| | အဆောက်အဦ ငှားရမ်းအသုံးပြုသည့် သက်တမ်း | - ၁ နှစ် |
| ၃။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့် သက်တမ်း | - ၁၀ နှစ် |
| ၄။ | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - |
| ၅။ | စုစုပေါင်းမတည်ငွေရင်း ပမာဏ | - အမေရိကန်ဒေါ်လာ ၅.၀၀ သန်း |

လျှို့ဝှက်

Salient

| | | |
|---|---|---|
| ၆။ | ရောင်းချမည့်စနစ် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် | - ပြည်တွင်း ၁၀၀ %<br>- Electronics၊ Fashion၊ Lifestyle၊ FMCG၊ Digital goods အစရှိသည့် ကုန်ပစ္စည်းများအားသိုလှောင်ရုံတွင်ထားရှိပြီး အွန်လိုင်း အသုံးပြုပြီး ရောင်းချမည် ဖြစ်ပါသည်။ |
| ၇။ | ဝန်ထမ်းခန့်ထားမှု | **ပြည်တွင်း** / **ပြည်ပ**<br>**ဦးရေ** — ၁၆၅ ဦး / ၁ ဦး<br>**အမြင့်ဆုံးလစာ** — ကျပ် ၃,၁၀၀,၀၀၀ / US$ ၁,၄၀၀<br>**အနိမ့်ဆုံးလစာ** — ကျပ် ၁၄၄,၀၀၀ |
| ၈။ | အခြားတင်ပြချက် | - ငွေကြေးအထောက်အထားအဖြစ် CB Bank တွင် Daraz Myanmar Co., Ltd. အမည်ဖြင့် ၂-၄-၂၀၁၈ ရက်စွဲတွင် US$ ၁၉၈,၅၉၇.၇၅ ရှိကြောင်း၊ KBZ Bank တွင် ၁-၂-၂၀၁၉ ရက်စွဲဖြင့် ကျပ် ၁၀၃,၉၈၂,၂၅၃.၅၀ ရှိကြောင်းနှင့် AYA Bank တွင် ၁-၂-၂၀၁၉ ရက်စွဲဖြင့် ကျပ် ၄၁,၈၃၇,၄၅၄.၂၈ ရှိကြောင်း တင်ပြထားပါသည်။ |
| ၉။ | စိစစ်တင်ပြချက် | - အတည်ပြုလုပ်ငန်း ဆောင်ရွက်ခွင့်နှင့်စပ်လျဉ်း၍ ၂၀၁၈ ခုနှစ် ဒီဇင်ဘာလ ၁၈ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁/၂၀၁၈ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အဖွဲ့ဝင်များက မြန်မာနိုင်ငံတွင် အွန်လိုင်းရောင်းဝယ်ခြင်း လုပ်ငန်းများ တရားမဝင် ဆောင်ရွက်နေသည့်အတွက် အခွန်များစွာ နစ်နာဆုံးရှုံးလျက်ရှိ ကြောင်း၊ Daraz Myanmar Co., Ltd. သည် နိုင်ငံတကာ အသိအမှတ်ပြု Alibaba Group ၏ အစိတ်အပိုင်း တစ်ခုအနေဖြင့် အွန်လိုင်းအသုံးပြု၍ ရောင်းဝယ်ခြင်းလုပ်ငန်းအား တရားဝင်ဆောင်ရွက်နိုင်ရန် တင်ပြလာခြင်းဖြစ်ကြောင်း၊ Alibaba Group ၏ လုပ်ငန်းများကို အခြားနိုင်ငံများတွင် ဝင်ရောက်ဆောင် ရွက်ရန် ဆွဲဆောင်နေချိန်တွင် မြန်မာနိုင်ငံ၌ အဆိုပါလုပ်ငန်းအား ဆောင်ရွက်ရန် ခွင့်ပြုသင့်ပါကြောင်း ဆွေးနွေးခဲ့ပြီး စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် ထပ်မံ တောင်းခံရန် ဆုံးဖြတ်ခဲ့ပါသည်။<br>- ကော်မရှင်အစည်းအဝေးဆုံးဖြတ်ချက်အရ စီးပွားရေးနှင့် ကူးသန်း ရောင်းဝယ်ရေးဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် ထပ်မံ တောင်းခံခဲ့ရာ Online Payment စနစ်သည် ယခုလက်ရှိတွင် |

| | | |
|---|---|---|
| | | လည်း တရားမဝင် ဆောင်ရွက်နေမှုများရှိသဖြင့် ယခုလို တရားဝင် အဆိုပြုမှုများအား ခွင့်ပြုမည်ဆိုပါက တိုင်းပြည်အတွက် ပိုမို ကောင်းမွန်လာပြီး အခွန်ဘဏ္ဍာများလည်း ရရှိလာနိုင်ကာ စည်းကမ်း တကျ ဆောင်ရွက်သွားနိုင်မည်ဖြစ်ပါသဖြင့် Pilot Project အဖြစ် ဆောင်ရွက်လိုပါက ခွင့်ပြုရန်၊ ထိုသို့ ခွင့်ပြုပါက ဆက်စပ်ဌာနများ၏ စည်းမျဉ်းစည်းကမ်းများနှင့်အညီ ဖြစ်စေရေး ဆောင်ရွက်သင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားခဲ့ပါသည်။<br>- ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေဌာနခွဲမှ ကော်မရှင်အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- အလုပ်သမားများအတွက် လူမှုဖူလုံရေးနှင့် သက်သာချောင်ချိရေး ဆောင်ရွက်မည့် အစီအစဉ်များ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် မီးဘေးကြိုတင်ကာကွယ်ရေးအစီအမံများနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။<br>- အတည်ပြုလုပ်ငန်းသည် ၂၀၁၄ ခုနှစ်မှ စတင်ပြီး ဆောင်ရွက်လျက်ရှိကြောင်း တွေ့ရှိရပါသည်။<br>- ကော်မရှင်အတည်ပြုမိန့် ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။ |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/အ-၀၃၉/ ၂၀၁၉(၁၇၅)

ရက်စွဲ၊ ၂၀၁၉ ခုနှစ် ဖေဖော်ဝါရီ လ ၁ ရက်

### မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
### တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Daraz Myanmar Co., Ltd. မှ Retail and Warehouse လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

၁။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် စင်ကာပူနိုင်ငံ Daraz Singapore Private Limitedမှ ၉၉.၉၀% နှင့် နယ်သာလန်နိုင်ငံသား Mr Franciscus Petrus Adrianus Cornelis မှ ၀.၁၀ % ထည့်ဝင်ကာ Daraz Myanmar Co., Ltd. တည်ထောင်၍ အခန်းအမှတ်-G-04၊ G-05၊ G-06၊ တိုက်အမှတ်-D၊ အခန်းအမှတ်-G-01၊ G-02၊ G-03၊ G-04၊ G-05၊ တိုက်အမှတ်-E၊ ဗိုလ်မြတ်ထွန်းလမ်း၊ မဟာဗန္ဓုလလမ်းနှင့် ကုန်သည်လမ်းထောင့်၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် Retail and Warehouse လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ မြေပိုင်ရှင် Asia Express (Ygn) Co., Ltd. နှင့် Daraz Myanmar Co., Ltd. တို့ကြား ချုပ်ဆိုထားသည့် အဆောက်အဦငှားရမ်းခြင်း သဘောတူစာချုပ်၊ မြေပိုင်ဆိုင်မှုအထောက်အထားများ၊ Layout Plan နှင့် ကုမ္ပဏီမှတ်ပုံတင် အထောက်အထားများအား တင်ပြထားပါသည်။

၃။ အဆောက်အဦငှားရမ်းကာလမှာ ၁နှစ် ဖြစ်ပါသည်။ စုစုပေါင်း ကြမ်းခင်းဧရိယာ အကျယ်အဝန်း ၁၈,၂၄၈ စတုရန်းပေ (၁,၆၉၅.၂၉ စတုရန်းမီတာ) အား ငှားရမ်း၍ လစဉ်ငှားရမ်းခမှာ အမေရိကန်ဒေါ်လာ ၂၂,၅၉၃.၀၀ ဖြစ်ပြီး ၁ လ တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၁၃.၃၂ နှုန်း ဖြစ်ပါသည်။

၄။ အတည်ပြုလုပ်ငန်း၏ စီမံကိန်းကာလမှာ ကနဦး ၁၀ နှစ် ဖြစ်ပါသည်။

၅။ အတည်ပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၅.၀၀ သန်း ဖြစ်ပါသည်။

၆။ အတည်ပြုလုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ၁၆၅ ဦး နှင့် ပြည်ပဝန်ထမ်း ၁ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၄၄,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၃,၁၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး လစာမှာ အမေရိကန်ဒေါ်လာ ၁,၄၀၀ ဖြစ်ပါသည်။

၇။ အတည်ပြုလုပ်ငန်းမှ Electronics၊ Fashion၊ Lifestyle၊ FMCG၊ Digital goods အစရှိသည့် ကုန်ပစ္စည်းများအား သိုလှောင်ရုံတွင် ထားရှိပြီး အွန်လိုင်းအသုံးပြုပြီး ရောင်းချမည် ဖြစ်ပါသည်။

၈။ အတည်ပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထား မှတ်ချက် တောင်းခံခဲ့ရာ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘော ထားမှတ်ချက် ပြန်ကြားခဲ့ပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ၂၀၁၈ ခုနှစ် နိုဝင်ဘာလ ၂၉ ရက်နေ့တွင် ကျင်းပ ပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄၃/၂၀၁၈)၊ ဆုံးဖြတ်ချက်အပိုဒ် (၆၅) အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားခဲ့ပါသည်။

(ခ) **စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ Online Payment စနစ်သည် ယခုလက်ရှိတွင် လည်း တရားမဝင် ဆောင်ရွက်နေမှုများရှိသဖြင့် ယခုလို တရားဝင် အဆိုပြုမှုများ အား ခွင့်ပြုမည်ဆိုပါက တိုင်းပြည်အတွက် ပိုမိုကောင်းမွန်လာပြီး အခွန်ဘဏ္ဍာများ လည်း ရရှိလာနိုင်ကာ စည်းကမ်းတကျ ဆောင်ရွက်သွားနိုင်မည်ဖြစ်ပါသဖြင့် Pilot Project အဖြစ်ဆောင်ရွက်လိုပါက ခွင့်ပြုရန်၊ ထိုသို့ခွင့်ပြုပါက ဆက်စပ်ဌာနများ၏ စည်းမျဉ်းစည်းကမ်းများနှင့်အညီ ဖြစ်စေရေး ဆောင်ရွက်သင့်ပါကြောင်း သဘောထား မှတ်ချက် ပြန်ကြားခဲ့ပါသည်။

၉။ ငွေကြေးအထောက်အထားအဖြစ် CB Bank တွင် Daraz Myanmar Co., Ltd. အမည်ဖြင့် ၂-၄-၂၀၁၈ ရက်စွဲတွင် US$ ၁၉၈,၅၉၇.၇၅ ရှိကြောင်း၊ KBZ Bank တွင် ၁-၂-၂၀၁၉ ရက်စွဲဖြင့် ကျပ် ၁၀၃,၉၉၂,၂၅၃.၅၀ ရှိကြောင်းနှင့် AYA Bank တွင် ၁-၂-၂၀၁၉ ရက်စွဲဖြင့် ကျပ် ၄၁,၈၃၇,၄၅၄.၂၈ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အတည်ပြုလုပ်ငန်းဆောင်ရွက်ခွင့်နှင့်စပ်လျဉ်း၍ ၂၀၁၈ ခုနှစ်ဒီဇင်ဘာလ ၁၈ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁/၂၀၁၈ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အဖွဲ့ဝင်များက မြန်မာနိုင်ငံတွင် အွန်လိုင်းရောင်းဝယ်ခြင်း လုပ်ငန်းများ တရားမဝင် ဆောင်ရွက်နေသည့်အတွက် အခွန်များစွာ နစ်နာဆုံးရှုံးလျက်ရှိ ကြောင်း၊ Daraz Myanmar Co., Ltd. သည် နိုင်ငံတကာ အသိအမှတ်ပြု Alibaba Group ၏ အစိတ်အပိုင်းတစ်ခုအနေဖြင့် အွန်လိုင်းအသုံးပြု၍ ရောင်းဝယ်ခြင်းလုပ်ငန်း

အား တရားဝင်ဆောင်ရွက်နိုင်ရန် တင်ပြလာခြင်းဖြစ်ကြောင်း၊ Alibaba Group ၏ လုပ်ငန်းများကို အခြားနိုင်ငံများတွင် ဝင်ရောက်ဆောင်ရွက်ရန် ဆွဲဆောင်နေချိန်တွင် မြန်မာနိုင်ငံ၌ အဆိုပါလုပ်ငန်းအား ဆောင်ရွက်ရန် ခွင့်ပြုသင့်ပါကြောင်း ဆွေးနွေးခဲ့ကြပြီး စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် ထပ်မံတောင်းခံရန် ဆုံးဖြတ်ခဲ့ပါသည်။

(ခ) အစည်းအဝေးဆုံးဖြတ်ချက်အရ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် ထပ်မံတောင်းခံခဲ့ရာ အတည်ပြုလုပ်ငန်းအား Pilot Project အဖြစ် ဆောင်ရွက်လိုပါက ခွင့်ပြုရန် သဘောထားမှတ်ချက် ပြန်ကြားခဲ့ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ဃ) အတည်ပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(င) အတည်ပြုလုပ်ငန်းသည် ၂၀၁၄ ခုနှစ်မှ စတင်ပြီး ဆောင်ရွက်လျက် ရှိကြောင်း တွေ့ရှိရပါသည်။

(စ) ကော်မရှင်အတည်ပြုမိန့် ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Daraz Myanmar Co., Ltd. မှ Retail and Warehouse လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

| ဝင်စာအမှတ် | M4.1186 |
|---|---|
| ရက်စွဲ | 4.12.2018 |



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

(နောက်ဆက်တွဲ-က)

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဒီဇင်ဘာလ ၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၃.၁၁.၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက - ၅ (အ) / ခ - ၀၃၉ / ၂၀၁၈ (၃၈၉)

၁။ စင်ကာပူနိုင်ငံ Daraz Singapore Private Limited မှ ၉၉.၉% နှင့် နယ်သာလန်နိုင်ငံသား Mr Franciscus Petrus Adrianus Cornelis မှ ၀.၁% တို့ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Daraz Myanmar Co.,Ltd တည်ထောင်ပြီး ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေကြီး၊ ဗိုလ်တထောင်မြို့နယ်၊ မဟာဗန္ဓုလလမ်းနှင့် ကုန်သည်လမ်းကြား၊ ဗိုလ်မြတ်ထွန်းလမ်း၊ တိုက်အမှတ်-D၊ အခန်းအမှတ်-G-04၊ G-05၊ G-06၊ တိုက်အမှတ်-E၊ အခန်းအမှတ်- G-01၊ G-02၊ G-03၊ G-04၊ G-05 တို့တွင် Retail and Warehouse လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၂၉.၁၁.၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄၃/၂၀၁၈)၊ ဆုံးဖြတ်ချက်အပိုဒ်(၆၅)အရ ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နော်ပန်းသဉ္ဇာမျိုး၊ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

မိတ္တူကို

တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဗိုလ်တထောင်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Daraz Myanmar Co.,Ltd
လက်ခံစာတွဲ/မျှောစာတွဲ

D/2018/Cabinet 43(4)

| | |
|---|---|
| ဝင်စာအမှတ် | M4-7431 |
| ရက်စွဲ | 1.2.2019 |

နောက်ဆက်တွဲ- ခ



NPT-0429
31.1.19

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ စက - ၁၄/၄ -၁၂/၂၀၁၉(၃၅)
ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဇန်နဝါရီလ ၂၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားပေးပို့ခြင်း**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁-၁၂-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက -၅ (အ)/ အ - ၀၃၉/ ၂၀၁၈ (၄၄၉)

၁။ စင်ကာပူနိုင်ငံ Daraz Singapore Private Limited မှ ၉၉.၉ % နှင့် နယ်သာလန်နိုင်ငံသား Mr Franciscus Petrus Adrianus Cornelis မှ ၀.၁ % တို့ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Daraz Myanmar Co.,Ltd တည်ထောင်ပြီး ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး, ဗိုလ်တစ်ထောင်မြို့နယ်၊ မဟာဗန္ဓုလလမ်းနှင့် ကုန်သည်လမ်းကြား၊ ဗိုလ်မြတ်ထွန်းလမ်း၊ တိုက်အမှတ် - D၊ အခန်းအမှတ်- G-04၊ G-05၊ G-06၊ တိုက်အမှတ် - E၊ အခန်းအမှတ်- G-01၊ G-02၊ G-03၊ G-04၊ G-05 တို့တွင် Retail and Warehouse လုပ်ငန်းအား အတည်ပြုမိန့်ထုတ်ပေးရန် သင့်/မသင့် သဘောထားမှတ်ချက်အား ဆောလျင်စွာပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ညှိနှိုင်းအစည်းအဝေးတစ်ရပ်အား ၂၀၁၉ ခုနှစ်၊ ဇန်နဝါရီလ ၈ ရက်နေ့တွင် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး အစည်းအဝေးခန်းမ၌ သက်ဆိုင်ရာဌာနများမှ တာဝန်ရှိသူများဖြင့် ကျင်းပပြုလုပ်ခဲ့ပြီး အစည်းအဝေးတွင် အောက်ပါအချက်များအား ဆုံးဖြတ်ခဲ့ပါသည်-

(က) Online Payment စနစ်သည် ယခုလက်ရှိတွင်လည်း တရားမဝင် ဆောင်ရွက်နေမှုများရှိသဖြင့် ယခုလို တရားဝင် အဆိုပြုမှုများအား ခွင့်ပြုမည်ဆိုပါက တိုင်းပြည်အတွက် ပိုမိုကောင်းမွန်လာပြီး အခွန်ဘဏ္ဍာများလည်း ရရှိလာနိုင်ကာ စည်းကမ်းတကျ ဆောင်ရွက်သွားနိုင်မည်ဖြစ်ပါသဖြင့် Pilot Project အဖြစ် ဆောင်ရွက်လိုပါက ခွင့်ပြုရန်၊ ထိုသို့ခွင့်ပြုပါက ဆက်စပ်ဌာနများ၏ စည်းမျဉ်းစည်းကမ်းများနှင့်အညီ ဖြစ်စေရေးထည့်သွင်းဆောင်ရွက်ရန်၊

(ခ) Online Trading လုပ်ငန်းခွင့်ပြုပေးရာတွင် ကုမ္ပဏီ၏ Image, Background, Business Model, Payment Flow တို့ကို အခြေခံ၍ ခွင့်ပြုပေးရန်၊

(ဂ) Retail and Warehouse လုပ်ငန်းအား Online စနစ်ဖြင့် ရောင်းဝယ်မည့် ကုမ္ပဏီများအနေဖြင့် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်ခြင်းဆောင်ရွက်စေရန်။

၃။ သို့ဖြစ်ပါ၍ ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Retail and Warehouse လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ Online စနစ်ဖြင့် ရောင်းဝယ်ခြင်း လုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုရန် လျှောက်ထားခြင်းအပေါ် အတည်ပြုမိန့်ထုတ်ပေးရန် သင့်/မသင့် နှင့်စပ်လျဉ်း၍ Pilot Project အဖြစ် ဆောင်ရွက်လိုပါက ခွင့်ပြုပေးရန်နှင့် ဆက်စပ်ဌာနများ၏ စည်းမျဉ်းစည်းကမ်းများနှင့်အညီဖြစ်စေရေးဆောင်ရွက်သင့်ပါကြောင်း ပြန်ကြားအပ် ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(အောင်စိုး ၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန